**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

စာအမှတ်၊ ဧရက / အ-၀၀၁(လ) / ၂၀၁၇ (၀၂၁ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၂၅ ရက်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myaung Mya FM Biomass Power Company Limited မှ စပါးခွံမှ လျှပ်စစ်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ ဂျပန်နိုင်ငံ Fujita Corporation မှ ၈၀ % နှင့် မြန်မာနိုင်ငံ Myanmar Agribusiness Public Corporation (MAPCO) Ltd. မှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် MyaungMya FM Biomass Power Co., Ltd.တည်ထောင်ကာဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်၊ မြောင်းမြ မြို့နယ်၊ အမှတ်(၂၂)မုဆိုးကွင်း၊ ဓနုံးချောင်းတောင် ကျေးရွာအုပ်စုဓနုံးချောင်းကွင်း၊ ကွင်းအမှတ် ၂၆၅၊ ၂၆၇(က)၊ ၂၆၈ မရမ်းချောင်းကွင်းရှိစိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မြေ ဧရိယာစုစုပေါင်း ၃၃၄.၇၂ ဧကအနက် ဧရိယာ ၁.၇၆၆ ဧက (၇,၁၅၀ စတုရန်းမီတာ)တွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Electricity Generating from Rice Husks (စပါးခွံမှ လျှပ်စစ်ထုတ်လုပ်ခြင်းလုပ်ငန်း)အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလာပါသည်။

၂။ အတည်ပြု လျှောက်ထားလွှာနှင့်အတူ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနနှင့် Myanmar Agribusiness Public Corporation (MAPCO) Ltd.တို့၏ ၂၄-၇-၂၀၁၄ ရက်နေ့ တွင် ချုပ်ဆိုထားသည့် မြောင်းမြဂုန်နီစက်ရုံ ငှားရမ်းရေး သဘောတူစာချုပ်၊ ၂၈-၁-၂၀၁၆ ရက်နေ့တွင် ချုပ်ဆိုထားသည့် မြောင်းမြဂုန်နီစက်ရုံ ငှားရမ်းရေး သဘောတူစာချုပ်ကို ပြင်ဆင်သည့်ပြင်ဆင်ချက်သဘောတူစာချုပ်၊ ၁၈-၅-၂၀၁၇ ရက်နေ့တွင် Myaung Mya FM Biomass Power Co., Ltd. နှင့် Myanmar Agribusiness Public Corporation (MAPCO) Ltd. တို့ချုပ်ဆိုထားသည့် မြေငှားရမ်းခြင်းသဘောတူစာချုပ်တို့ကို ပူးတွဲ တင်ပြထားပါသည်။

၃။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မြေဧရိယာ စုစုပေါင်း ၃၃၄.၇၂ ဧက အနက် ဧရိယာ ၁.၇၆၆ ဧက (၇,၁၅၀ စတုရန်းမီတာ)အား နှစ် (၅၀) ထပ်ဆင့် ငှားရမ်းဆောင်ရွက်ခြင်းဖြစ်ပြီး နှစ်ဦးသဘောတူစာချုပ်အရ မြေငှားရမ်းခနှုန်းမှာ ပထမ ၁၇ နှစ် တွင်

အမေရိကန်ဒေါ်လာ ၆၂,၆၅၀ ဖြစ်ပြီး ပထမ ၁၇ နှစ် ပြီးနောက် မြေငှားစာချုပ်သက်တမ်း ကုန်ဆုံးချိန်ထိ တစ်နှစ်လျှင် ကျပ် ၄.၄၂ သန်း (တစ်နှစ်တစ်စတုရန်းမီတာလျှင် ၆၁၈ ကျပ်နှုန်း)ဖြစ်ပါသည်။

၄။ လုပ်ငန်းသက်တမ်း ကာလမှာကနဦး နှစ် ၅၀ နှင့် ၁၀နှစ် (နှစ်ကြိမ်) သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၃.၆၈၅ သန်း ဖြစ်၍ အောက်ပါအတိုင်းထည့်ဝင်မည်ဖြစ်ပါသည်-

| **ရင်းနှီးမြှုပ်နှံမှုပမာဏ** | **US$(သန်းပေါင်း)** |
|---|---|
| ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ | ၀.၇၃၇ |
| နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ | ၂.၉၄၈ |
| **စုစုပေါင်း** | ၃.၆၈၅ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ဦးရေ(၁၆)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၁၀၈,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၈၀၀,၀၀၀ နှင့် ပြည်ပဝန်ထမ်းခန့်အပ်ထားခြင်းမရှိကြောင်းတင်ပြထားပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် လျှပ်စစ်များကို ပြည်တွင်း ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ နှစ်စဉ်ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | အရေအတွက် (Kwh) | ရောင်းချမည့် ဈေးနှုန်းUSD/ တစ်ယူနစ် | ရောင်းချမည့် ဈေးနှုန်းကျပ်/ တစ်ယူနစ် | နှစ်စဉ်ဝင်ငွေ USD |
|---|---|---|---|---|---|
| (က) | Power | ၁၁,၆၂၈,၀၀၀ | ၀.၀၈ | ၁၁၀ | ၀.၉၃ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | အမေရိကန်ဒေါ်လာ(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၀.၉၃ |
| (ခ) | အသုံးစရိတ် | ၀.၅၅ |
| (ဂ) | အသားတင်အမြတ် | ၀.၃၈ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၀၉ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန် ဒေါ်လာ ၀.၀၅ ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၆ နှစ် နှင့် ၈ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၁.၅၄% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရေဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ၁၀/၂၀၁၇ အစည်းအဝေးဆုံးဖြတ်ချက်အရ **ကန့်ကွက်ရန် မရှိကြောင်း** လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန်ဆုံးဖြတ်ထားပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **ရေဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ရာသီဥတုပြောင်းလဲမှုဆိုင်ရာကြီးကြပ်မှုကော်မတီ**မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများကို လိုက်နာဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) ကိုရေးဆွဲဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

၁၀။ ငွေရေးကြေးရေး အထောက်အထားအဖြစ် MyaungMya FM Biomass Power Co., Ltd. အမည်ဖြင့် Sumitomo Mitsui Banking Corporation (Yangon Branch) တွင် (၁၆-၅-၂၀၁၇) ရက်နေ့၌ USD ၇၅,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ Myaung Mya FM Biomass Power Co., Ltd. မှ မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးအစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံဆောင်ရွက်မည့်အစီအစဉ်များကိုတင်ပြထားပါသည်။

၁၂။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ နိုင်ငံတော်ကသာဆောင်ရွက်ခွင့်ရှိသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းစာရင်း၊ နိုင်ငံခြားသားက ဆောင်ရွက်ခွင့် မရှိသည့်လုပ်ငန်းစာရင်း၊ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်းစာရင်း၊ သက်ဆိုင်ရာဝန်ကြီးဌာန၏အတည်ပြုချက်ဖြင့်ဆောင်ရွက်ရမည့်လုပ်ငန်းများစာရင်းတွင်ပါဝင်ခြင်းမရှိပါကြောင်းနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်သည့်လုပ်ငန်းဖြစ်ကြောင်း စိစစ်ရပါသည်။

(ခ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်း၊ ပို့လွှတ်ခြင်းနှင့်ဖြန့်ဖြူးခြင်း လုပ်ငန်းများသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍစာရင်းတွင်ပါဝင်ပြီး အခွန်အကောက် ကင်းလွတ်ခွင့် သက်သာခွင့် လျှောက်ထားနိုင်မည်ဖြစ်ကြောင်းစိစစ်ရပါသည်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြောင်းမြခရိုင်၊ မြောင်းမြမြို့နယ်သည် ဖွံ့ဖြိုးမှုအသင့်အတင့်ရှိသည့်ဒေသ(ဇုန်-၂) တွင် ပါဝင်ပါသည်။

(ဃ) ကုမ္ပဏီအနေဖြင့် အမေရိကန်ဒေါ်လာ၂.၇၅ သန်းတန်ဖိုးရှိ စက်ပစ္စည်းကိရိယာများကို ပြည်ပမှတင်သွင်းဆောင်ရွက်မည်ဖြစ်ပါသည်။

(င) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေနေရာနှင့်စပ်လျဉ်း၍ ထပ်ဆင့်ငှားရမ်းဆောင်ရွက်ခြင်းအပေါ် စိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ သဘောတူခွင့်ပြုချက် တင်ပြပေးရန် လိုအပ်ပါသည်။

(စ) စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ ပိုင်မြေကို ထပ်ဆင့်ငှားရမ်း ဆောင်ရွက်ခြင်းအတွက်သက်ဆိုင်ရာဝန်ကြီးဌာန၏ သဘောတူခွင့်ပြုချက်ရရှိသည့်အခါအတည်ပြုမိန့်ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ MyaungMya FM Biomass Power Company Limited မှ ဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြမြို့နယ်၊ မုဆိုးကွင်း၊ အမှတ်(၂၂)၊ ခနုံးချောင်းတောင်ကျေးရွာရှိ စုစုပေါင်းမြေ အကျယ်ဧရိယာ ၁.၇၆၆ ဧက (၇,၁၅၀ စတုရန်းမီတာ) တွင် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် စပါးခွံမှ လျှပ်စစ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

25/7/2017

ဥက္ကဋ္ဌ(ကိုယ်စား)

(စိုးအောင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

**နောက်ဆက်တွဲ(က)**

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၆၀၀/၆-၄(၄၈၁)/အစိုးရ(ဧရာဝတီ)
ရက်စွဲ၊ ၂၀၁၇ခုနှစ်၊ မတ်လ ၃၀ ရက်

သို့

Myaung Mya FM Biomass Power Co.,Ltd

အကြောင်းအရာ။ **မြောင်းမြမြို့၊ စပါးခွံဓာတ်ငွေ့သုံးလျှပ်စစ်ဓာတ်အားပေးစက်ရုံ စီမံကိန်းပြုလုပ်ရန် အတွက် သဘောထားမှတ်ချက်ပေးပို့ခြင်းကိစ္စ**

ဖူဂျိတာကော်ပိုရေးရှင်းနှင့် မြန်မာ့စိုက်ပျိုးမွေးမြူရေးကုမ္ပဏီလီမိတက်(MAPCO)တို့ ပူးပေါင်း၍ ဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်အတွင်းရှိ စပါးခွံဓာတ်ငွေ့သုံးလျှပ်စစ်ဓာတ်အားပေး စက်ရုံစီမံကိန်းကို ရင်းနှီးမြှုပ်နှံရန်အတွက် MICခွင့်ပြုချက်ရရှိရန် လိုအပ်ပါသဖြင့် ထောက်ခံချက် ရရှိနိုင်ရေး တင်ပြလာမှုနှင့်ပတ်သက်၍ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၇)၊ ဆုံးဖြတ်ချက်(၁၇)၌ 'တိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ရာသီဥတုပြောင်းလဲမှု ဆိုင်ရာကြီးကြပ်မှုကော်မတီမှ စိစစ်ပြီး သဘောထားအကြံပြုချက်ပြန်လည်တင်ပြရန်' ဆုံးဖြတ်ခဲ့မှုအရ တိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ရာသီဥတုပြောင်းလဲမှုဆိုင်ရာကြီးကြပ်မှုကော်မတီ ၏ စိစစ်တင်ပြလာမှုနှင့်ပတ်သက်၍ (၂၄-၃-၂၀၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၁၀/၂၀၁၇)၊ ဆုံးဖြတ်ချက်(၁၂)၌ "ကန့်ကွက်ရန်မရှိကြောင်း Myaung Mya FM Biomass Power Co.,Ltdသို့ ပြန်ကြားရန်" ဆုံးဖြတ်ခဲ့ပါသဖြင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

ဝန်ကြီးချုပ်
( သန်းဆွေဝင်း၊ အတွင်းရေးမှူး)

လျှပ်စစ်၊စွမ်းအင်၊စက်မှုလက်မှုနှင့်လမ်းပန်းဆက်သွယ်ရေးဝန်ကြီး၊
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့
ညွှန်ကြားရေးမှူး၊ တိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ပုသိမ်မြို့
ရုံးလက်ခံ/မျှောစာတွဲ

| | |
|---|---|
| ကုမ္ပဏီအမည် | **MyaungMya FM Biomass Power Co., Ltd.** |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | Electricity Generat-ing from Rice Husks (စပါးခွံမှ လျှပ်စစ်ထုတ်လုပ်ခြင်းလုပ်ငန်း) |
| တည်နေရာ | ဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်၊ မြောင်းမြ မြို့နယ်၊ အမှတ် (၂၂)မှဆိုးကွင်း၊ ခနုံးချောင်းတောင် ကျေးရွာအုပ်စု ခနုံးချောင်းကွင်း၊ ကွင်းအမှတ် ၂၆၅၊ ၂၆၇(က)၊ ၂၆၈ မရမ်းချောင်းကွင်းရှိဧရိယာ ၁.၇၆၆ ဧက (၇,၁၅၀ စတုရန်းမီတာ) |
| စုစုပေါင်းမတည်ငွေရင်း | အမေရိကန်ဒေါ်လာ ၃.၆၈၅ သန်း |
| လုပ်ငန်းသက်တမ်း | ၅၀ နှစ် |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost &Benefit** ကိုအောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀သန်း(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | ကျပ်၁၆၅.၃၈ သန်း |
| ၄ | ဝင်ငွေခွန် | ကျပ် ၆၅၄.၁၈သန်း | ကျပ် ၁၆၉၁.၁၅သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၉၄၁.၈၃သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၄.၀၇သန်း<br>တစ်နှစ်ဝင်ငွေကျပ် သိန်း(၄၈) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၅) ဦး |
| ၈ | CSR (၁%) | - | ကျပ် ၆၅.၄၉သန်း |
| ၉ | မြေငှားရမ်းခငွေ | - | - |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်းလုပ်သား (၁၆)ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၆၅၇.၁၈ သန်း | ကျပ် ၂၈၆၉.၁၂ သန်း |
| | | ၁ : ၄ | |

MyaungMya FM Biomass Power Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Electricity Generating from Rice Husks (စပါးခွံမှလျှပ်စစ်ထုတ်လုပ်ခြင်းလုပ်ငန်း) အားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီအတည်ပြုမိန့်လျှောက်ထားလာခြင်းကိုစိစစ်တင်ပြရန်လိုအပ်သည့်အချက်အလက်များ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | PAT အကြိမ်နေ့စွဲ | ဆွေးနွေးချက်မှ တင်ပြရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Myaung Mya FM Biomass Power Co., Ltd. | Electricity Generating from Rice Husks (စပါးခွံမှလျှပ်စစ်ထုတ်လုပ်ခြင်းလုပ်ငန်း) | ၁/၂၀၁၇ (၂၂-၉-၂၀၁၇) | (က)စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင်မြေဧရိယာ စုစုပေါင်း ၃၃၄.၇၂ ဧက အနက် ဧရိယာ ၁.၇၆၆ ဧက (၇,၁၅၀ စတုရန်းမီတာ) ကို Myanmar Agribusiness Public Corporation(MAPCO) Ltd.ထံမှထပ်ဆင့်ငှားရမ်းဆောင်ရွက်ခြင်းအတွက်စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ သဘောတူခွင့်ပြုချက်။ | ဆောင်ရွက်ဆဲ | |

အကြောင်းအရာ။ Myaung Mya FM Biomass Power Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Electricity Generating from Rice Husks (စပါးခွံမှ လျှပ်စစ်ထုတ်လုပ်ခြင်းလုပ်ငန်း) အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုမိန့် လျှောက်ထားလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br><br><br><br>လုပ်ငန်းအမျိုးအစား | - Myaung Mya FM Biomass Power Co., Ltd.<br>- Mr. Inoue Shoichi<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- ဂျပန်နိုင်ငံ Fujita Corporation မှ ၈၀ %<br>မြန်မာနိုင်ငံ Myanmar Agribusiness Public Corporation (MAPCO) Ltd. မှ ၂၀%<br>- စပါးခွံမှလျှပ်စစ်ထုတ်လုပ်ခြင်းလုပ်ငန်း<br>(Electricity Generating from Rice Husks) |
| ၂။ | တည်နေရာ | - ဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်၊ မြောင်းမြမြို့နယ်၊ အမှတ်(၂၂)မုဆိုးကွင်း၊ ခနုံးချောင်းတောင်ကျေးရွာအုပ်စု၊ ခနုံးချောင်းကွင်း၊ ကွင်းအမှတ် ၂၆၅၊ ၂၆၇(က)၊ ၂၆၈ မရမ်းချောင်းကွင်း။ |
| ၃။ | မြေပိုင်ရှင်<br><br>အကျယ်အဝန်း<br><br>မြေ/အဆောက်အအုံငှားရမ်းခ<br><br><br><br>မြေ/အဆောက်အအုံငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန<br>- စုစုပေါင်းမြေဧရိယာ ၃၃၄.၇၂ ဧကအနက် ဧရိယာ ၁.၇၆၆ဧက (၇,၁၅၀ စတုရန်းမီတာ)<br>- ပထမ ၁၇ နှစ် တွင် အမေရိကန်ဒေါ်လာ ၆၂,၆၅၀<br>- ပထမ ၁၇ နှစ်ပြီးနောက် မြေငှားစာချုပ်သက်တမ်းကုန်ဆုံးချိန်ထိ တစ်နှစ်လျှင် ကျပ် ၄.၄၂ သိန်း (တစ်နှစ်တစ်စတုရန်းမီတာလျှင် ၆၁၈ ကျပ်နှုန်း)<br>- ကနဦးနှစ် ၅၀ (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ ထည့်ဝင်သည့်အမျိုးအစား<br>(က) ပြည်တွင်းမှထည့်ဝင်သည့် မတည်ငွေရင်းပမာဏ/ရာခိုင်နှုန်း | US$(သန်းပေါင်း) ရာခိုင်နှုန်း<br>၀.၇၃၇ ၂၀% |

| | | |
|---|---|---|
| | (ခ) နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ/ ရာခိုင်နှုန်း<br>**စုစုပေါင်း** | ၂.၉၄၈ ၈၀%<br>**၃.၆၈၅** |
| ၇။ | အခြားတင်ပြချက် | (က) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနနှင့် Myanmar Agribusiness Public Corporation (MAPCO) Ltd.တို့မှ ၂၄-၇-၂၀၁၄ ရက်နေ့တွင် ချုပ်ဆိုထားသည့် မြောင်းမြ ဂုန်နီစက်ရုံ ငှားရမ်းရေး သဘောတူစာချုပ်၊ ၂၈-၁-၂၀၁၆ ရက်နေ့တွင်ချုပ်ဆိုထားသည့် မြောင်းမြဂုန်နီစက်ရုံ ငှားရမ်းရေး သဘောတူစာချုပ်ကို ပြင်ဆင်သည့်ပြင်ဆင်ချက်သဘောတူစာချုပ်၊ ၁၈-၅-၂၀၁၇ ရက်နေ့တွင် Myaung Mya FM Biomass Power Co., Ltd.နှင့် Myanmar Agribusiness Public Corporation (MAPCO) Ltd. တို့ ချုပ်ဆိုထားသည့် မြေငှားရမ်းခြင်း သဘောတူ စာချုပ် တို့ကို ပူးတွဲတင်ပြထားပါသည်။<br>(ခ) Fujita Corporation နှင့် Myanmar Agribusiness Public Corporation (MAPCO) Ltd. တို့ ၁၈-၅-၂၀၁၇ ရက်နေ့တွင် ချုပ်ဆိုထားသည့် ဖက်စပ်စာချုပ်၊ Myaung Mya FM Biomass Power Co., Ltd. နှင့် Myanmar Agribusiness Public Corporation (MAPCO) Ltd. တို့ချုပ်ဆိုထားသည့် Power Purchase Agreement စာချုပ်၊ Feedstock Supply Agreement စာချုပ်တို့ကိုပူးတွဲတင်ပြထားပါသည်။<br>(ဂ) ဝန်ထမ်းခန့်ထားမည့် အစီအစဉ်နှင့် လုပ်ခလစာကိုအောက်ပါ အတိုင်း တင်ပြထားပါသည်-<br>**စုစုပေါင်း ၁၆ ဦး**<br>ပြည်တွင်း- ၁၆ ဦး (တစ်လလျှင် ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၈,၀၀၀ ၊ အမြင့်ဆုံး လစာမှာ ကျပ်၁,၀၀၀,၀၀၀ ဖြစ်ပါသည်။)<br>ပြည်ပ - ခန့်ထားခြင်းမရှိပါ။ |

(ဃ) ငွေကြေးအထောက်အထားအဖြစ် MyaungMya FM Biomass Power Co.,Ltd. အမည်ဖြင့် Sumitomo Mitsui Banking Corporation (Yangon Branch)တွင် (၁၆-၅-၂၀၁၇) ရက်နေ့၌ USD ၇၅,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

(င) ကုမ္ပဏီအနေဖြင့် နှစ်စဉ်အသားတင်အမြတ်၏ ၁% ကို CSR လုပ်ငန်းများအတွက်အောက်ပါအတိုင်း သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်-

ဝန်ထမ်းများလုပ်ငန်းကျွမ်းကျင်မှုသင်တန်းများအတွက် (၂၅ %)

ဝန်ထမ်းများကျန်းမာရေးဆိုင်ရာထောက်ပံ့ခြင်းအတွက် (၂၅ %)

စက်မှုဇုန်ဖွံ့ဖြိုးတိုးတက်ရေးအတွက် (၂၅ %)

ဒေသဖွံ့ဖြိုးတိုးတက်ရေးအတွက် (၂၅ %)

(စ) Myaung Mya FM Biomass Power Co., Ltd. နှင့် Myanmar Agribusiness Public Corporation (MAPCO) Ltd. တို့ ချုပ်ဆိုထားသည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(၁) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မြေဧရိယာ စုစုပေါင်း ၃၃၄.၇၂ ဧကအနက်ဧရိယာ ၁.၇၆၆ ဧက (၇,၁၅၀ စတုရန်းမီတာ) ကို Myanmar Agribusiness Public Corporation (MAPCO) Ltd. ထံမှ ထပ်ဆင့် ငှားရမ်းဆောင်ရွက်မည် ဖြစ်ပါသည်။

(၂) မြေငှားရမ်းသည့် သက်တမ်းကာလမှာ စာချုပ် လက်မှတ်ရေးထိုးသည့် ၁၈-၅-၂၀၁၇ ရက်နေ့မှစ၍ ကနဦး နှစ် ၅၀ ဖြစ်၍ ၁၀ နှစ် နှစ်ကြိမ် သက်တမ်းတိုးငှားရမ်း မည် ဖြစ်ပါသည်။

(၃) နှစ်ဦးသဘောတူစာချုပ်အရ မြေငှားရမ်းခနှုန်းမှာပထမ ၁၇ နှစ် တွင် အမေရိကန်ဒေါ်လာ ၆၂,၆၅၀ ဖြစ်ပြီး ပထမ ၁၇နှစ်ပြီးနောက် မြေငှားစာချုပ်သက်တမ်းကုန်ဆုံးချိန်ထိ

| | | |
|---|---|---|
| | | တစ်နှစ်လျှင် ကျပ် ၄.၄၂ သန်း (တစ်နှစ်တစ်စတုရန်းမီတာလျှင် ၆၁၈ ကျပ်နှုန်း)ဖြစ်ပါသည်။ (ဃ) Myanmar Agribusiness Public Corporation (MAPCO) Ltd. တို့ချုပ်ဆိုထားသည့် Power Purchase Agreement စာချုပ်ပါ အဓိကအချက်များအား အောက်ပါအတိုင်းဖြစ်ပါသည်- (၁) စာချုပ် သက်တမ်းကာလမှာ စာချုပ် လက်မှတ်ရေးထိုးသည့် ၁၈-၅-၂၀၁၇ ရက်နေ့မှစ၍ ကနဦး နှစ် ၁၅ ဖြစ်၍ ၁၀နှစ်နှစ်ကြိမ်သက်တမ်းဆောင်ရွက်မည် ဖြစ်ပါသည်။ (၂) ကုမ္ပဏီအနေဖြင့် တစ်နှစ်လျှင် လျှပ်စစ် ၁၀,၃၆၈ MWh ထုတ်လုပ်ပြီး Myanmar Agribusiness Public Corporation (MAPCO) Ltd. သို့ရောင်းချမည်ဖြစ်ပါသည်။ |
| ၈။ | စိစစ်တင်ပြချက် | (က) ကုမ္ပဏီ၏ ပထမနှစ် လျှပ်စစ်ဓာတ်အား ထုပ်လုပ်မှုနှင့် ဝန်ဆောင်ခနှုန်းမှာအောက်ပါအတိုင်းဖြစ်ပါသည်- |

| No | Particular | Qty (Kwh) | Unit Price (US$) | Equivalent in Kyats |
|---|---|---|---|---|
| 1 | Power Sale | 11,628,000 | 0.08 | 108 |

(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် ၁၅/၂၀၁၇ အရနိုင်ငံတော်ကသာ ဆောင်ရွက်ခွင့် ရှိသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းစာရင်း၊ နိုင်ငံခြားသားကဆောင်ရွက်ခွင့် မရှိသည့် လုပ်ငန်းစာရင်း၊ နိုင်ငံသားနှင့်ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်းစာရင်း၊ သက်ဆိုင်ရာ ဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်းများ စာရင်းတွင် ပါဝင်ခြင်း မရှိပါကြောင်း စိစစ်ရပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်သည့်လုပ်ငန်းဖြစ်ကြောင်း စိစစ်ရပါသည်။

(ဃ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်း၊ ပိုလွှတ်ခြင်းနှင့်ဖြန့်ဖြူးခြင်း လုပ်ငန်းများသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မ

ရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁ ရက်နေ့ပါ အမိန့်ကြော်ငြာစာ အမှတ် ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ စာရင်းတွင်ပါဝင်ပြီး ဝင်ငွေခွန် ကင်းလွတ်ခွင့် လျှောက်ထားရရှိနိုင်မည် ဖြစ်ကြောင်းစိစစ်ရပါသည်။

(င) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြောင်းမြခရိုင်၊ မြောင်းမြမြို့နယ်သည် ဖွံ့ဖြိုးမှု အသင့်အတင့်ရှိသည့် ဒေသတွင် ပါဝင်ပြီး ဝင်ငွေခွန်ကင်းလွတ်ခွင့် ၅ နှစ် ရရှိနိုင်မည်ဖြစ်ပါသည်။

(စ) အမေရိကန်ဒေါ်လာ ၂.၄၅ သန်း တန်ဖိုးရှိ စက်ပစ္စည်းကိရိယာများကိုပြည်ပမှတင်သွင်းဆောင်ရွက်မည်ဖြစ်ပါသည်။

(ဆ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ရာသီဥတု ပြောင်းလဲမှုဆိုင်ရာ ကြီးကြပ်မှုကော်မတီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများကို လိုက်နာဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) ကို ရေးဆွဲဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

(ဇ) ကုမ္ပဏီသည် Myanmar Agribusiness Public Corporation (MAPCO) Ltd. မှ စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနထံမှ ငှားရမ်းဆောင်ရွက်လျက်ရှိသည့် မြောင်းမြဂုန်နီစက်ရုံဝင်း အတွင်းရှိ မြေဧရိယာ စုစုပေါင်း ၃၃၄.၇၂ ဧကအနက် ဧရိယာ ၁.၇၆၆ ဧက (၇,၁၅၀ စတုရန်းမီတာ) ကို ထပ်ဆင့်ငှားရမ်း ဆောင်ရွက်ခြင်းဖြစ်၍ ထပ်ဆင့်ငှားရမ်းဆောင်ရွက်ခြင်းအပေါ် သက်ဆိုင်ရာ ဝန်ကြီးဌာနမှ သဘောတူခွင့်ပြုချက် တင်ပြပေးရန်လိုအပ်ပါသည်။

(ဈ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီးဌာန၏ သဘောထားမှတ်ချက် ရရှိရေးအတွက် ပြည်ထောင်စုအစိုးရ အဖွဲ့သို့ တင်ပြထားဆဲဖြစ်ပါသည်။

(ည) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ရရှိပြီးပါက ကော်မတီအစည်းအဝေးသို့ ဆက်လက်တင်ပြသွားမည်ဖြစ်ပါသည်။

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Myaung Mya FM Biomass Power Company Limited | Myanmar Agribusiness Public Corporation(MAPCO) Limited & Fujita Corporation Represented by its Directors: | မုဆိုးကွင်း၊အမှတ်(၂၂)၊ခနဲ့ချောင်းတောင်ကျေးရွာ၊မြောင်းမြမြို့နယ်၊ဧရာဝတီတိုင်းဒေသကြီး |
| | | (၁)Mr.InoueShoichi(Japanese) (PP No. TH 7677871) | ChibakenMatsudoshi Rokoudai 5-171-14, Japan |
| | | (၂) Mr. Saeki Yoshio (Japanese) (PP No. TK 3455209) | 209, CosomoNiiza Shiki, 1-7-38 Owada, Niiza City, Saitama Pref, Japan. |
| | | (၃) Mr. Ishii Tomohiro (Japanese) (PP No. MU 3912615)<br>(၄) U Ye Min Aung (Myanmar) 12/TaMaNa(Naing)094582 | Akitsu 5-18-15, Narasino City, Chiba Pref, Japan.<br>No.38, 1st floor, 89th Street, KanTaw Kalay (West) Ward, MingalarTaung Nyunt Township, Yangon. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၀၇၀၈၈၄

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်-၁၀၀၄၊ ၁၀လွှာ၊ RUMFCCI Tower, အမှတ်၂၉၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်။

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်မြဖုန်းထက်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - စပါးခွံမှလျှပ်စစ်ထုတ်လုပ်ခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - ၁၁၃၁အက်ဖ်စီ/၂၀၁၆-၂၀၁၇(ရက)၊ ၁၃.၃.၂၀၁၇

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် -